## အသိသက်သေများ

လက်မှတ် ၊ ----------------------------------
အမည် ၊ ဦးဇော်ဝင်း
ရာထူး ၊ အထွေထွေမန်နေဂျာ
မှတ်ပုံတင်အမှတ်၊ ၁၄/ညတန(နိုင်)၀၁၀၄၂၈
လိပ်စာ ၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း
အလုံလမ်း၊ အလုံမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။
ရက်စွဲ ၊ - - ၂၀၁၈ ။

လက်မှတ် ၊ --------------------------
အမည် ၊ ဦးသန်းမင်း
ရာထူး ၊ ဒါရိုက်တာ
မှတ်ပုံတင်အမှတ်၊ ၁/မကန(နိုင်)၀၅၁၄၄၈
လိပ်စာ ၊Global Mart Development
Company Limited
အမှတ်(၃၈)၊ (၃)လမ်း၊
လမ်းမတော်မြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။
ရက်စွဲ ၊ - - ၂၀၁၈ ။

လက်မှတ် ၊ ----------------------------------
အမည် ၊ ဦးအေးရွှေ
ရာထူး ၊ အထွေထွေမန်နေဂျာ
မှတ်ပုံတင်အမှတ်၊ ၉/မထလ(နိုင်)၀၁၆၃၀၇
လိပ်စာ ၊ မြန်မာစီးပွားရေးကော်ပိုရေးရှင်း
အလုံလမ်း၊ အလုံမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။
ရက်စွဲ ၊ - - ၂၀၁၈။

လက်မှတ် ၊ --------------------------
အမည် ၊ ဒေါ်ခိုင်သင်ဇာနှင်း
ရာထူး ၊ ဒါရိုက်တာ
မှတ်ပုံတင်အမှတ်၊၁၂/သဃက(နိုင်)၁၇၉၂၄၁
လိပ်စာ ၊Global Mart Development
Company Limited
အမှတ်(၃၇၄/၃၇၅)၊ကျွန်းရွှေ
မြိုင်လမ်း၊သဃ်န်းကျွန်းမြို့နယ်၊
ရန်ကုန်တိုင်းဒေသကြီး။
ရက်စွဲ ၊ - - ၂၀၁၈ ။

# ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)
# စစ်ထောက်ချုပ်ရုံး

နှင့်

# မြန်မာစီးပွားရေးကော်ပိုရေးရှင်း

တို့၏

ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊
တော်ဝင်လမ်း နှင့် မင်းဓမ္မလမ်းဆုံရှိ
တပ်မတော်ပိုင်မြေ (၂၆.၄၁၉) ဧက မြေနေရာတွင်
မင်းဓမ္မဒုတိယ ဗဟိုစီးပွားရေးဇုန်လုပ်ငန်း တည်ဆောက်လုပ်ကိုင်ရန်

# ပူးပေါင်းဆောင်ရွက်ခြင်း သဘောတူစာချုပ်

နေရာ ။ ရန် ကုန် မြို့ ။

ရက်စွဲ ။ ၂၃ - ၂ - ၂၀၁၅ ။

**ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ တော်ဝင်လမ်းနှင့် မင်းဓမ္မလမ်းဆုံရှိ**

**တပ်ပိုင်မြေ(၅၆.၄၃၉)ဧက မြေနေရာအား**

**ငှားရမ်းခြင်းသဘောတူစာချုပ်**

၁။ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၏ ၉-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၅/၁၉၅၄/၁၆/ဦး ၃ ဖြင့် ခွင့်ပြုချက်အရ ဤသဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ် ၊ဖေဖော်ဝါရီလ ( ၂၃ )ရက်နေ့တွင် နေပြည်တော်၌ ကြည်း-၂၄၁၈၄၊ ဒုတိယဗိုလ်မှူးကြီးတိုးထွန်းမြင့် ကိုယ်စားပြုသော ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက် ချုပ်ရုံး၊ နေပြည်တော်(နောင်တွင် "အငှားချထားသူ"ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင်အဆိုပါ စစ်ထောက်ချုပ် ရုံး၏ ဆက်ခံသူများ၊ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်နှင့်

၂။ မြန်မာစီးပွားရေးကော်ပိုရေးရှင်း၏ ဦးဆောင်ညွှန်ကြားရေးမှူး ဦးသန့်ဆွေကိုယ်စား ၊ အထွေထွေမန်နေဂျာ ဦးဇော်ဝင်း၊ မှတ်ပုံတင်အမှတ်၊ ၁၄/ညတန(နိုင်)၀၁၀၄၂၈ ၊ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ တော်ဝင် လမ်း နှင့်မင်းဓမ္မလမ်းဆုံရှိ တပ်ပိုင်မြေ(၅၆. ၄၃၉)ဧကအား မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်း တည်ထောင် ထားသည့် မြန်မာစီးပွားရေးကော်ပိုရေးရှင်း (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟုခေါ်တွင်စေပြီး ယင်းစကား ရပ်တွင် ဥပဒေအရလွှဲပြောင်းခြင်းခံရသူများ၊ အမွေစားအမွေခံများနှင့် တရားဝင်ကိုယ်စားလှယ်များ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်သဘောတူစာချုပ် ချုပ်ဆိုကြပါသည်။

**အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

၃။ "အငှားချထားသူ"သည် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ တော်ဝင်လမ်း နှင့်မင်းဓမ္မလမ်းဆုံရှိ တပ်ပိုင်မြေ(၅၆. ၄၃၉)ဧကကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိသူဖြစ်ကြောင်း အာမခံပါသည်။ "အငှားချ ထားခြင်းခံရသူ" သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အထက်ပါမြေကိုငှားရမ်းပြီး မင်းဓမ္မဒုတိယ ဗဟိုစီးပွားရေးဇုန် လုပ်ငန်းတည်ဆောက်လုပ်ကိုင်ရန် စာချုပ်ကိုအကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ပြီး "အငှားချထားခြင်းခံရသူ" သည် စာချုပ်တွင်လက်မှတ်ရေးထိုးခွင့်ရှိသူဖြစ်ကြောင်းနှင့် ဥပဒေအရ လုပ်ပိုင်ခွင့် ရှိသူဖြစ်ကြောင်း အာမခံပါသည်။

**အငှားချထားသည့်မြေ တည်နေရာနှင့် ငှားရမ်းခြင်းသက်တမ်း**

၄။ " အငှားချထားသူ"က " အငှားချထားခြင်းခံရသူ"သို့ ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ တော်ဝင်လမ်းနှင့် မင်းဓမ္မလမ်းဆုံရှိ တပ်ပိုင်မြေ(၅၆. ၄၃၉)ဧကကို (၂၀၁၅)ခုနှစ်မှ (၂၀၇၅)ခုနှစ်အထိ (၆၀)နှစ်ငှားရမ်းချုပ်ဆိုပြီး နှစ်ရှည်ငှားရမ်းမည်ဖြစ်ပါသည်။ ငှားရမ်းသည့်မြေပေါ်တွင် မင်းဓမ္မဒုတိယဗဟို စီးပွားရေးဇုန်တည်ဆောက်ခြင်းလုပ်ငန်းကို " အငှားချထားခြင်းခံရသူ"က မိမိစရိတ်ဖြင့် တည်ဆောက်လုပ်ကိုင် မည်ဖြစ်ပါသည်။

ငှားရမ်းခနှုန်းထားနှင့် ငွေပေးချေခြင်းနည်းလမ်း

၅။ "အငှားချထားခြင်းခံရသူ"သည် အပိုဒ်(၄)ပါ မြေ(၅၆. ၄၃၉)ဧကအတွက် မြေငှားရမ်းခကို အောက်ပါအတိုင်းပေးဆောင်ရမည်-

(က) မြေငှားရမ်းခအား ( ၂၃-၂ -၂၀၁၅ )ရက်နေ့မှစ၍ မြေငှားရမ်းခတွက်ချက်ရမည်။

(ခ) မြေငှားရမ်းခအဖြစ် (၁)နှစ်လျှင် (၁)ဧက(၁၀၀,၀၀၀/-)နှုန်းဖြင့် မြေ(၅၆. ၄၃၉)ဧကကို ငွေကျပ်(၅,၆၄၃,၉၀၀/-)ပေးသွင်းရမည်။ခေတ်အလိုက်ငှားရမ်းခနှုန်းထား ပြောင်းလဲသတ်မှတ်လိုပါကနှစ်ဖက်ညှိနှိုင်းဆွေးနွေးဆောင်ရွက်သွားရမည်။

(ဂ) အထက်အပိုဒ်(ခ)အရ သတ်မှတ်ထားသော နှစ်စဉ်ငှားရမ်းခကို တစ်ကြိမ်တည်းအပြီးပေးသွင်းရမည်။

(ဃ) ငွေပေးသွင်းရာတွင် မြန်မာစီးပွားရေးဘဏ်ခွဲ(သဃ်န်းကျွန်း)ရှိ ကာကွယ်ရေး ရငွေစာရင်းအမှတ် MD-010424 သို့ပေးသွင်းရန်နှင့် စစ်ထောက်ချုပ်ရုံးသို့ ငွေသွင်းပြေစာမူရင်းများပေးပို့ရမည်။

(င) ငှားရမ်းခများကို စာချုပ်စတင်ချုပ်ဆိုသည့်နေ့မှစ၍ ရက်ပေါင်း(၃၀)အတွင်း "အငှားချထားခြင်းခံရသူ"က အထက်အပိုဒ်(ဃ)ပါ ငွေစာရင်းခေါင်းစဉ်သို့ ပေးသွင်းရမည်။

အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်အခွင့်အရေးများ

၆။ "အငှားချထားခြင်းခံရသူ"သည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်-

(က) "အငှားချထားခြင်းခံရသူ"သည် အငှားချထားစဉ်ကာလအတွင်း ယင်းမြေ၏ လုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ တစ်စိတ်တစ်ဒေသကိုဖြစ်စေ တနည်းနည်းဖြင့် ထုခွဲရောင်းချခြင်းမပြုရ။

(ခ) "အငှားချထားခြင်းခံရသူ"အနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့်အေးဆေးစွာအသုံးပြုပိုင်ခွင့်ရပြီး "အငှားချထားသူ"၏သဘောအရ (သို့မဟုတ်)"အငှားချထားသူ" သည် ယုံကြည်အပ်နှံသူတို့၏ ပါဝင်ပတ်သက်မှု ဝင်ရောက်နှောက်ယှက်မှုတို့မရှိစေရ။

(ဂ) ငှားရမ်းသည့်အချိန်ကာလအတွင်း မြေပေါ်တွင် တည်ဆောက်မည့်အဆောက်အဦများကိုမီးအာမခံနှင့်တခြားလိုအပ်သော အာမခံများကို မြန်မာ့အာမခံဥပဒေအရ ထားရှိရန်"အငှားချထားခြင်းခံရသူ"က တာဝန်ယူရမည်။

(ဃ) အငှားချထားခြင်းကိစ္စနှင့်ပတ်သက်၍ မြေခွန်မှအပ အခြားစည်ပင်သာယာခွန်အပါအဝင်လုပ်ငန်းဆောင်ရွက်မှုနှင့် သက်ဆိုင်သောအခွန်အခအားလုံးကို အချိန်မှန်မှန်ပေးသွင်းရမည်။

(င) မင်းဓမ္မဒုတိယဗဟိုစီးပွားရေးဇုန် တည်ဆောက်လုပ်ကိုင်နိုင်ရေးအတွက် ဥပဒေအရလိုအပ်သောခွင့်ပြုချက်များ၊ လိုင်စင်များကိုသက်ဆိုင်ရာ ဌာနများမှ ရယူဆောင်ရွက်ရမည်။

(စ) နိုင်ငံတော်မှ ချမှတ်ထားသော မူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့်ငြိစွန်းသော လုပ်ငန်းရပ်များ လုပ်ဆောင်ခြင်းမှ ရှောင်ကျဉ်ရမည်။

**အငှားချထားသူ၏တာဝန်များ**

၇။ အငှားချထားသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည် -

(က) အငှားချထားသူသည် ငှားရမ်းသည့်မြေနှင့်သက်ဆိုင်သည့် မြေခွန်ကိုပေးဆောင်ရမည်။

(ခ) အငှားချထားသူသည် အငှားချထားခြင်းခံရသူအနေဖြင့် စာချုပ်ပါလုပ်ငန်းများကို စာချုပ်ပါသတ်မှတ်ချက်နှင့် အချိန်ကာလအတွင်း ပြီးစီးအောင်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက်သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အဖွဲ့အစည်းများနှင့်ပူးပေါင်း၍ အငှားချထားခြင်းခံရသူကလိုအပ်သောခွင့်ပြုချက်များရရှိရေးအတွက် လိုအပ်သောကူညီထောက်ပံ့မှုပေးရမည်။

(ဂ) အငှားချထားသူသည် အငှားချထားမည့်ကာလအတွင်း အငှားချထားခြင်းခံရသူမှ မြေကိုငြိမ်းချမ်းစွာနှင့် အနှောက်အယှက်ကင်းရှင်းစွာအသုံးပြုခွင့်ရရှိမည်။

**စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်**

၈။ ဤစာချုပ်သည် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်းများ**

၉။ ဤမြေငှားစာချုပ်၏ စည်းကမ်းချက်တစ်ရပ်ရပ်ဖြင့်စပ်လျဉ်း၍ အငြင်းပွားမှုပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဘက်ငြိမ်းချမ်းစွာ ညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ညှိနှိုင်းဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ပိုင်ခွင့်ရှိသောတရားရုံး၏ အဆုံးအဖြတ်ကိုခံယူရမည်။

**စာချုပ်ရပ်စဲခြင်း**

၁၀။ (က) ဤစာချုပ်ချုပ်ဆိုသူများသည် အောက်ဖော်ပြပါ အကြောင်းအချင်းရာတစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ကို ရပ်စဲခွင့်ရှိစေရမည် -

(၁) ဤစာချုပ်ပါအဓိကတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(၂) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း(၆)လကြာမြင့်ခြင်း။

(၃) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(၄) နှစ်ဖက်သဘောတူ စာချုပ်ရပ်စဲခြင်း။

(ခ) အငှားချထားခြင်းခံရသူ၏ ပျက်ကွက်မှုကြောင့်မဟုတ်ဘဲ စာချုပ်ရပ်စဲသည့်အခါ ပေးသွင်းထားပြီးဖြစ်သော ငှားရမ်းခများနှင့် အငှားချထားသူတည်ဆောက်တပ်ဆင်ထားသော အဆောက်အဦနှင့်ပစ္စည်းများကို စီမံခန့်ခွဲမည့်နည်းလမ်းအား နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရန်သဘောတူပါသည်။

(ဂ) အထက်ဖော်ပြပါအကြောင်းအရာများကြောင့် စာချုပ်ရပ်စဲသည့်အခါ စာချုပ်ရပ်စဲပြီးနောက် (၃)လအတွင်း မြေနှင့်တကွ မြေပေါ်ရှိအဆောက်အဦ၊ တပ်ဆင်ထားသောပစ္စည်းများအပါအဝင် အားလုံးတို့ကို အငှားချထားခြင်းခံရသူက အငှားချထားသူကို အဖိုးအစားအနားမဲ့ ပြန်လည်ပေးအပ်ရမည်။

**ဓါတ်သတ္တု အရင်းအမြစ်များနှင့် ရတနာများ**

၁၁။ စာချုပ်ကာလအတွင်း မမျှော်လင့်ဘဲငှားရမ်းထားသောမြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများနှင့် သယံဇာတများကိုတွေ့ရှိလျှင် သက်ဆိုင်ရာမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းသို့ ချက်ချင်းအကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းများကို သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

**မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၂။ ဤသဘောတူစာချုပ်အရ ဆောင်ရွက်ရမည့်တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ၊ မထမ်းဆောင်နိုင်လျှင် မထမ်းဆောင်နိုင်သူဘက်က တခြားဘက်သို့ (၁၄)ရက်အတွင်း မလွန်ဆန်နိုင်သောဖြစ်ရပ်ကို အသေးစိတ်စာဖြင့်ရေးသားကာ အကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တရားများထမ်းဆောင်ခြင်းကို မလွန်ဆန်နိုင်သောဖြစ်ရပ်ပေါ်ပေါက်နေစဉ်ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့်၊ ကြန့်ကြာမှုကြောင့် မည်သူ့ထံတွင်မှတာဝန်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ မြေငလျင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပြည်သူ့ရန်သူ၏လုပ်ဆောင်ချက်များ၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်း၊ အဓိကရုန်းဖြစ်ခြင်းများ၊ အရပ်ဖက်နှောင့်ယှက်ဖျက်စီးခြင်းများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်းများ၊ ရေကြီးခြင်းများ၊ မိုးကြိုးပစ်ခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းများနှင့် ထိုက်သင့်သောဂရုစိုက်မှု၊ ဥာဏ်၊ လုံ့လတို့နှင့်ထိန်းချုပ်၍မရဘဲ ကျော်လွန်သွားရန် မတတ်နိုင်စွမ်းသော ဖြစ်ရပ်များကိုဆိုလိုသည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၃။ "အငှားချထားခြင်းခံရသူ" သည် ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

**စာပေးစာယူပြုလုပ်ရန်ကိစ္စ**

၁၄။ စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ(သို့မဟုတ်)အင်္ဂလိပ်ဘာသာဖြင့်ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့်ပို့ခြင်းတို့ကိုအသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ချက်ချင်းအသိပေးအကြောင်းကြားရမည် -

(က) **အငှားချထားသူ**

စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန၊ နေပြည်တော်။

(ခ) **အငှားချထားခြင်းခံရသူ**

မြန်မာစီးပွားရေးကော်ပိုရေးရှင်း

အလုံမြို့နယ်၊ ရန်ကုန်မြို့။

**အထွေထွေ**

၁၅။ ဤစာချုပ်တွင်ပါရှိသည့် မြေပုံ၊ မြေရာဇဝင် စာရွက်စာတမ်းအထောက်အထားများသည် သဘောတူစာချုပ်၏ အရေးကြီးသောအစိတ်အပိုင်းအဖြစ် ပါဝင်စေရမည်။ သဘောတူစာချုပ်ကိုချုပ်ဆိုကြသည့် ပုဂ္ဂိုလ်များသည် ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ(၂၃)ရက်နေ့၌ အောက်ပါအသိသက်သေများရှေ့မှောက်တွင် "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့က လက်မှတ်ရေးထိုးတံဆိပ်ရိုက်နှိပ်လျက်စာချုပ် ချုပ်ဆိုကြပါသည်-

| **အငှားချထားသူ(ကိုယ်စား)** | | **အငှားချထားခြင်းခံရသူ(ကိုယ်စား)** | |
|---|---|---|---|
| လက်မှတ် | | လက်မှတ် | |
| အဆင့်/အမည် | ဒုတိယဗိုလ်မှူးကြီးတိုးထွန်းမြင့် | အမည် | ဦးဇော်ဝင်း |
| ပြန်တမ်းဝင်အမှတ် | ကြည်း-၂၄၁၈၄ | မှတ်ပုံတင်အမှတ် | ၁၄/ညတန(နိုင်)၀၁၀၄၂၈ |
| ရာထူး | လက်ထောက်စစ်ထောက်ချုပ် | ရာထူး | အထွေထွေမန်နေဂျာ |
| လိပ်စာ | စစ်ထောက်ချုပ်ရုံး<br>ကာကွယ်ရေးဝန်ကြီးဌာန | လိပ်စာ | မြန်မာစီးပွားရေးကော်ပိုရေးရှင်း<br>အလုံလမ်း၊ အလုံမြို့နယ် |

**" အသိသက်သေများ "**

| | | | |
|---|---|---|---|
| လက်မှတ် | ----------------------------- | လက်မှတ် | ----------------------------- |
| အဆင့်/အမည် | ဗိုလ်မှူး ဝင်းထက်မင်း | အမည် | ဦးဝင်းနိုင် |
| ပြန်တမ်းဝင်အမှတ် | ကြည်း-၃၇၄၆၆ | မှတ်ပုံတင်အမှတ် | ၁၂/စကန(နိုင်)၀၄၈၇၇၉ |
| ရာထူး | ဒုလက်ထောက်စစ်ထောက်ချုပ် | ရာထူး | ဒုတိယအထွေထွေမန်နေဂျာ |
| လိပ်စာ | စစ်ထောက်ချုပ်ရုံး | လိပ်စာ | မြန်မာစီးပွားရေးကော်ပိုရေးရှင်း |
| | ကာကွယ်ရေးဝန်ကြီးဌာန | | အလုံလမ်း၊ အလုံမြို့နယ် |

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံးမှမြန်မာစီးပွားရေးကော်ပိုရေးရှင်းသို့ ငှားရမ်းထားသည့်မြေ(၅၆.၄၃၉)ဧက တည်နေရာပြကောင်းကင်ဓာတ်ပုံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ



| | |
|---|---|
| ၂၀၈၁၃/၁၈ / ခုနှစ်သုံးမြေပုံမှရေးကူး ပေးသည့် မှန်ကန်ကြောင်း သက်သေခံသည့် မိတ္တူမြေပုံ | |
| အမည်ပေါက် | ဦးငြိမ်းထော်ကကွယ်ရေး တဏှာသိုလ် |
| မြေတိုင်းရပ်ကွက်အမှတ် | ၃၉၄ |
| လူနေရပ်ကွက်အမှတ် | - |
| မြေကွက်အမှတ် | ၁၈B |
| မြေအမျိုးအစား | ဟင်္သာရမြေ |
| ဧရိယာ | ၃၄.၁၂၂၈ အတိုင်းအတာမပါဝ |
| မြို့နယ် | ဟင်္သာ |
| စကေး | ၁၆" = ၁မိုင် |
| အဆောက်အဦးဆောက်ရန် လျှောက်ထားသည့်အကြောင်းအရာ | |

မြေတိုင်း (၁)
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

မြေတိုင်း (၁)
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

ဌာနမှူး

ဌာနမှူး (ကိုယ်စား)
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

၂၀၁၇/၁၈ ခုနှစ်ထဲသုံး မြေပုံ/မြို့မြေစာရင်းမှ ရေးကူး သော ကောက်နုတ်ချက် မိတ္တူ မြေပုံ/မြေရာဇဝင် ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။

စိမ်
(မြို့ပြ/မြေပုံရေးဆွဲ)

010481

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၁၂၅၄....../ ၂၀၁၃-၂၀၁၄

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ......ဂလိုဘယ် မာ့(တ်) ဒီဗလော့(ပ်)မန့်......

......ကုမ္ပဏီ လီမိတက်......အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၂၀၁၃ နှစ်၊ ....ဇွန်......လ၊ ..၁၃ ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

(နန်းရီရီသန်း ၊ ညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ......1254...... of 2013 - 2014

I hereby certify that GLOBAL MART DEVELOPMENT COMPANY LIMITED ...................................is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Nay Pyi Taw this ......THIRTEENTH......day of ......JUNE, TWO THOUSAND AND THIRTEEN......

**For Director General**

**(Nang Yi Yi Than, Director)**

Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဒေါ်သက်သက်ကျင် (၁၂/ပဘတ (နိုင်) ၀၁၆၈၉၂)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၃၈)၊ ၃-လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၉-၅၀၉၁၀၈၄

(ဃ) ဒါရိုက်တာများ အမည်စာရင်း–

(၁) ဒေါ်ယုယုဇော်
၃/မဝတ(နိုင်) ၀၁၀၃၆၅

မှတ်ချက် ။

(၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၃ - ၆ -၂၀၁၃ )မှ ( ၁၂ - ၆ -၂၀၁၈ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင် မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(မြင့်လွင် ၊ ဒုတိယညွှန်ကြားရေးမှူး)

**AYA Bank**

**ဧရာဝတီဘဏ်**

Your Trusted Partner

စာအမှတ်။ ။အေပိုင်အေ/ချေးငွေ(စီမံကိန်း)/၀၀၄၉/၂၀၁၇-၂၀၁၈

ရက်စွဲ ။ ။ ၂၀၁၇ခုနှစ်၊စက်တင်ဘာလ၊(၂၇)ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(MIC)

ရန်ကုန်တိုင်းဒေသကြီး။

အကြောင်းအရာ။ ။ Hotel ဆောက်လုပ်ခြင်းနှင့် Hotelလုပ်ငန်း ဆောင်ရွက်ရန် ငွေကြေးထောက်ပံ့မှုအတွက် ထောက်ခံချက်ပေးပါရန် (Experssion of interest) လျှောက်ထားခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Global Mart Development Co.,Ltdမှ တာဝန်ယူတည်ဆောက်ပြီး ဖွင့်လှစ်ဆောင်ရွက်မည့် Snow Mountain SM Hotel Project (မင်းဓမ္မလမ်းသွယ်နှင့် ပြည်လမ်းမအနီးရှိ မြေဧရိယာ ၀.၇၀၄)အား MICသို့တင်ရန်အတွက် တည်ဆောက်ရေးနှင့် လုပ်ငန်းဆောင်ရွက်မှုအတွက် ငွေကြေးလိုအပ်ပါက ဧရာဝတီဘဏ်မှ ဘဏ်စည်းမျဉ်းစည်းကမ်းနှင့် အညီ Project Loanအဖြစ် ပံ့ပိုးကူညီပေးမည်ဖြစ်ကြောင်း အကြောင်းကြားအပ်ပါသည်။

လေးစားစွာဖြင့်

May Myat Thu

Deputy Managing Director

Ayeyarwady Bank Limited.

No.416, Corner of Maharbandoola Road
& Maharbandoola Garden Street,
Kyauktada Township,
Yangon, Myanmar.

T +951 370500
F +951 370501
E info@ayabank.com.mm
www.ayabank.com
www.facebook.com/ayabank

# AYA BANK

Your trusted partner

*Printed time: 12/01/2018 2:32:55 PM*

AYA WAYZAYANDAR BRANCH

## DEPOSIT STATEMENT

**From: 12/01/2018 To: 12/01/2018**

| | | | |
|---|---|---|---|
| **Account Number:** | 0082224010007037 | **Currency** | **MMK** |
| **Name** | **/U AUNG MIN/Daw THET THET KYIN/Daw KHIN HNIN WAI/Daw KHIN THIRI AUNG/Daw KHINE THINZAR HNIN/ GLOBAL MART DEVELOPMENT CO.;LTD.** | | |
| **NRC** | **/14/-WA-KHA-MA-(N)-014453/12/PABATA(N)016892/08/-MA-KA-NA-(N)-020293/12/AHLANA(N)042334/12/THAHGAKA(N)179241/1254/20132014** | | |
| **Address** | **#R(45), SHWE MINGALAR STR, MYA KYUN THAR HOUSING;PH:09-777736526#-#NO(374/375),KYUNSHWEMYAING ST,23 /QTR,THUWUNNA,THINGANGYUN TSP,YGN.#NO.(3), TOSTA AVENUE, THU MINGALAR HOUSING, THINGANGYUN TSP, YGN.#NO-38, (3) ST, LANMADAW TSP, YGN#NO.38, 3 ST, LANMATAW TSP. 01-579076/09-792718042** | | |

| No | Date | Descriptions | cheque | TT | TC | Debit | Credit | Balance |
|---|---|---|---|---|---|---|---|---|
| | | | | | | | **BF** | **50,000,000.00** |
| | | | | | | | **BALANCE** | **50,000,000.00** |

| Previous Balance | + | Total Deposit | - | Total Withdrawals | = | Total Balance |
|---|---|---|---|---|---|---|
| **50,000,000.00** | **+** | **0.00** | **-** | **0.00** | **=** | **50,000,000.00** |

No. of Withdrawals =

No. of Deposit =

Unless the Bank is immediately notified of any discrepancy found in the statement of account it will be taken that the account has been found correct

CH = Cash

TR = Transfer

CL = Clearing

T/T = Type of Transaction

T/C = Type of Transaction code

Manager
Ayarwady Bank Limited
**Wayzayandar Branch**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဂလိုဘယ် မာ့(တ်) ဒီဗလော့(ပ်)မန့် ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း ________

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# GLOBAL MART DEVELOPMENT COMPANY LIMITED

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

**အစုရှယ်ယာ**များဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဂလိုဘယ် မာ့(တ်) ဒီဗလော့(ပ်)မန့် ကုမ္ပဏီ လီမိတက်

၏

**သင်းဖွဲ့မှတ်တမ်း**

❖ ❖ ❖ ❖ ❖ ❖ ❖

**ကုမ္ပဏီ၏အမည်**သည် ဂလိုဘယ် မာ့(တ်) ဒီဗလော့(ပ်)မန့် ကုမ္ပဏီ လီမိတက်
**ဖြစ်ပါသည်**။

**ကုမ္ပဏီ၏ မှတ်ပုံ**တင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

**အစုဝင်များ၏** ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

**ကုမ္ပဏီ၏ သတ်**မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀ /-( ကျပ်
**[illegible]ငါးသောင်း** တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀၀ /-( ကျပ်
**[illegible]** တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅၀၀၀၀ )

**[illegible]ပါသည်**။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော
**တရားဥပဒေ** အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊
**လျှော့ချနိုင်ခွင့်** နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

**[illegible]ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ**

[illegible] ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
[illegible]နှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
[illegible] ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာရောင်းဝယ်ခြင်း
[illegible]များရောင်းဝယ်ခြင်း
[illegible] ပိုးသတ်ဆေးများရောင်းဝယ်ခြင်း
[illegible] ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ခြင်း
[illegible]များနှင့် ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ခြင်း
[illegible]များရောင်းဝယ်ခြင်း
[illegible]များရောင်းဝယ်ခြင်း
[illegible]လုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများရောင်းဝယ်ခြင်း
[illegible]လက်ထရောနစ် ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
[illegible]ရိယာနှင့် အပိုပစ္စည်းများရောင်းဝယ်ခြင်း
[illegible]ပလာအမျိုးမျိုးရောင်းဝယ်ခြင်း
[illegible]များရောင်းဝယ်ခြင်း
[illegible]နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ခြင်း
[illegible]နှင့် အဝတ်အထည်များရောင်းဝယ်ခြင်း
[illegible]ယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ခြင်း
[illegible]များနှင့် ပညာရေးအထောက်အကူ ပစ္စည်းများရောင်းဝယ်ခြင်း
[illegible]နှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊
[illegible] ကုန်ထုတ်လုပ်ခြင်း၊
[illegible]နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊
[illegible]ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
[illegible]ခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
[illegible]များအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
[illegible] ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
[illegible]များ ထုတ်လုပ်ခြင်း၊
[illegible]များ ထုတ်လုပ်ခြင်း၊
[illegible]ယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
[illegible]ပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
[illegible]ပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
[illegible]များ ထုတ်လုပ်ခြင်း၊
[illegible]လက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
[illegible]နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
[illegible]ချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
[illegible]အမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
[illegible] ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
[illegible]လုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
[illegible] လုပ်ငန်းအမျိုးမျိုး၊
[illegible]ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
[illegible] လုပ်ငန်း၊
[illegible]နှင့် စစ်ဆေးရေး လုပ်ငန်း၊
[illegible] ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့်
[illegible]ချက်ခြင်းလုပ်ငန်းများ၊
[illegible]ခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
[illegible] ကက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
[illegible] အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
[illegible]လုပ်ငန်း
[illegible]လုပ်ငန်း
[illegible]
[illegible]
[illegible]ဆောင်လုပ်ငန်းနှင့်၊ အိမ်ခြံမြေရောင်းနီးမြှုပ်နှံမှုလုပ်ငန်း

[illegible] သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည့်သည့်ပုဂ္ဂိုလ်၊ [illegible]၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

[illegible]သည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ [illegible] တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်း [illegible]ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေ [illegible] အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု [illegible]ရှိသည်။

အောက်ဖော်ပြပါ အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့သည် ဖော်ပြပါရှိသည့် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| အစုထည့်ဝင်သူများ၏အမည်၊<br>နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲ<br>လက်မှတ် |
|---|---|---|---|
| ဒေါ် သက်သက်ကျင်<br>ကုန်သည်<br>အမှတ် ၂၀/ဂျီ၊ သာသနာ့ရိပ်သာလမ်း၊<br>သာသနာ့ရိပ်သာရပ်ကွက်၊ ဗဟန်းမြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ၁၂/ပဘတ(နိုင်)၀၁၆၈၉၂ | ၁၉၀ | Thet |
| ဒေါ် ယုယုဝေ<br>ကုန်သည်<br>တိုက်(၂)၊ အခန်း(၃၀၅)၊ ရွှေဝါမြိုင်အိမ်ရာ၊<br>ရန်ကုန်-အင်းစိန် လမ်းမ၊ (၉)ရပ်ကွက်၊<br>လှိုင်မြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၃/မဝတ(နိုင်)၀၁၀၃၆၅ | ၁၀ | [signature] |

ရန်ကုန်မြို့တော်။ နေ့စွဲ၊ ၂၀၁၃ ခုနှစ်၊ ၀၆ လ၊ ၁၁ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW TIN TIN YEE
ADVOCATE (LEGAL CONSULTANT)
L.L.B, B.R.E, MA (USA)
LICENSE NO. 7164

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဂလိုဘယ် မာ့(တ်) ဒီဗလော့(ပ်)မန့် ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် စေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် [illegible]ဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုး သက်ရောက် စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၅၀၀၀၀၀၀၀၀၀၀ /-(ကျပ်
[illegible]ငါးသောင်း တိတိ)ဖြစ်၍ ငွေကျပ် ၁၅၀၀,၀၀၀ /-(ကျပ်
[illegible]သန်း တိတိ)တန်အစုရှယ်ယာပေါင်း ၅၀,၀၀၀ ခွဲထားပါသည်။

ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် [illegible] ရှိစေရမည်။

မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

အသင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် (၂) ဦးထက်မနည်း၊ (၁၀) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဒေါ်သက်သက်ကျင် (၂) ဒေါ်ယုယုဇော်

တို့ဖြစ်ကြပါသည်။

ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

ဒါရိုက်တာများသည်၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

[illegible] မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ် [illegible]သော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု [illegible]အလင်း ထုတ်ဖော် ကြေငြာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း ၊ အငှားချခြင်း ၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါ ချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အတွက်အာမခံများ ထားရှိရန် အပြင်၊ အထူးသဖြင့် ဤ ကုမ္ပဏီ၏ ဒီဘင်ချာများ ၊ ဒီဘင်ချာစတော့(ခ်)များ ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှု များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန် ၊ သို့မဟုတ် အစုရှယ်ယာများ ၊ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော် လည်းကောင်း ၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း ၊ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန် ၊ ထို့အပြင် အဆိုပါ ကိစ္စများအတွက် ကုမ္ပဏီ၏ မည့်သည့်အရာရှိကိုမဆို ကိစ္စရပ်များ အားလုံးကိုဖြစ်စေ ၊ တစ်စိတ်တစ်ဒေကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ် ရန် ။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေးဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန် ။

(၇) မည်သည့်အစုရှင် ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့် ဖြစ်သောမည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို ၊အရေးယူ ၊ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများ အတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ ၊မပါသည် ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန် ၊ ထို့အပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြား ပုဂ္ဂိုလ် များက ကုမ္ပဏီ၏ (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်းချက်များ ပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သော လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

(၀၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း ၊ ပြင်ဆင်ခြင်း ၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။။

(၀၈) ဤ ကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည် ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများ ကို ပြုလုပ်ရန် ၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း ၊ ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန် ။

(၀၉) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီသို့မဟုတ်ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်း ထံမှ မဆို ငွေချေးယူရန် ။

## အထွေထွေ အစည်းအဝေးကြီးများ

ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့် နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် ့ တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌ ) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေး စတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေ အတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်း မပြုရ ၊ ဤတွင် အခြားနည်းသတ်မှတ် ပြဋ္ဌာန်းခြင်း မရှိလျှင်ထုတ်ဝေထားသည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက် မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက် မနည်းသော) အစုရှင်များကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စ အားလုံးဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင် အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်း သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့် အမြတ်ဝေစုကို ကြေငြာ ရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေ ရသေးသည့် အမြတ်ပမာဏမှအပ အမြတ် ဝေစုကို ခွဲဝေမပေးရ ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မှီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မှီသူများ အား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြား အသုံးစရိတ်များကဲ့ သို့သော ဉာဏ် ပူဇော်ခ များနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၄င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်းလည်ပတ်မှု အားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

### ငွေစာရင်းများ

ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့် အညီ ထားသို ထိန်းသိမ်းဆောင်ရွက်ရမည် ။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ ။

(၂) ကုမ္ပဏီ ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤ ကုမ္ပဏီ၏ ရရန် ပိုင်ခွင့် နှင့် ပေးရန် တာဝန်များ။

ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး ၊ ရုံးချိန် အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

### စာရင်းစစ်

စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့် လိုက်လျော ညီထွေ ဖြစ်ရမည်။

### နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှ တဆင့်လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

### တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက်စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေး အပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာ တစ်ဦး ရှေ့မှောက်တွင်မှတပါး မည်သည့်အခါမျှ မသုံးရ။တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်း တိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

### လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥဖဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ ၊ဆုံးရှုံးငွေများ၊ ကုန်ကျငွေများ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

### ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်း နိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ် ရမည်။

အောက်ဖော်ပြပါ အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့သည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲဖော်ပြပါသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|
| ဦး သက်သက်ကျင်<br>ကုန်သည်<br>အမှတ်-၂၁/ဂျီ၊ သာသနာ့ရိပ်သာလမ်း၊<br>သာသနာ့ရိပ်သာရပ်ကွက်၊ ဗဟန်းမြို့နယ်<br>ရန်ကုန်တိုင်းဒေသကြီး | ၁၂/ပဘတ(နိုင်)၀၁၆၈၉၂ | ၁၉၀ | (signature) |
| ဦး ယုယုအောင်<br>ကုန်သည်<br>တိုက်(၂)၊ အခန်း(၃၀၅)၊ ရွှေဝါမြိုင်အိမ်ရာ၊<br>ရန်ကုန်-အင်းစိန် လမ်းမ၊ (၉)ရပ်ကွက်၊<br>လှိုင်မြို့နယ် ရန်ကုန်တိုင်းဒေသကြီး | ၃/မဝတ(နိုင်)၀၁၀၃၆၅ | ၁၀ | (signature) |

နေပြည်တော် ။ နေ့စွဲ ၊ ၂၀၁၃ ခုနှစ်၊ ၀၆ လ၊ ၁၁ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW TIN TIN YEE
ADVOCATE (LEGAL CONSULTANT)
L.L.B, B.R.E, MA (USA)
LICENSE NO. 7164

THE MYANAMR COMPANY ACT

PRIVATE COMPANY LIMITED BY SHARES

**Memorandum Of Association**

OF

# GLOBAL MART DEVELOPMENT COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is **GLOBAL MART DEVELOPMENT COMPANY LIMITED**

II. The registered office of the Company will be situated in the Union of Myanmar.

III. The liability of the members is limited.

IV. The authorised capital of the Company is Ks- **50,000,00,0000** /-(Kyats **Fifty Thousand Million** Only ) divided into (**50000** ) shares of Ks. **1000000** /-(Kyats **One Lark** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

**V. The Objective For Which The company is established are**

1. **Trading** of Agricultural and farm produces.
2. **Trading** of Forest products and value-added wood-based products.
3. **Trading** of Animal by-products and Animal feed.
4. **Trading** of Marine products.
5. **Trading** of Fertilizer and insecticides.
6. **Trading** of Chemicals and dyes.
7. **Trading** of Factory utencils and raw material.
8. **Trading** of Household goods.
9. **Trading** of Personal goods.
10. **Trading** of Construction materials and paints.
11. **Trading** of Electrical and electronic products.
12. **Trading** of Vehicles, Machinery and spares.
13. **Trading** of Tools and implement.
14. **Trading** of Medicines and medical equipment.
15. **Trading** of Foodstuff and general merchandise.
16. **Trading** of Textile and garment.
17. **Trading** of Paper, stationery and photographic stores.
18. **Trading** of Office equipment and educational supplies.
19. **Growing**, producing, harvesting, preserving, packing, milling and manufacturing of agricultural and farm products.
20. **Felling**, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber(excluding-teak) and forest products.
21. **Livestock** breeding, processing and canning of livestock products.
22. **Finishing**, preserving, milling, canning and processing of marine products.
23. **Producing** fertilizers, insecticides and animal feeds.
24. **Manufacturing** of personal goods.
25. **Manufacturing** of household goods.
26. **Manufacturing** of vehicles, machineries and spares.
27. **Manufacturing** of arts and crafts, lacquerwares and furniture.
28. **Manufacturing** of construction materials and paints.
29. **Manufacturing** of factory utencils.
30. **Manufacturing** of electrical and electronic goods.
31. **Manufacturing** of textile, garments and clothing.
32. **To** carry on the business of explanation, exploitation, production, processing of minerals and marketing of its products with the permission of the Government.
33. **All** kinds of agency business, technical consultants, business consultants, management consultants and advisory services.
34. **Advertising** and its agency business.
35. **Business** of entertainments and related activities.
36. **Business** of all kinds of medical services.
37. **Business** of transportation (except railways and airways)
38. **Business** of printing and publishing.
39. **Business** of surveying and inspection.
40. **Business** of feasibility study on new projects, projects formulation, project appraisal and project evaluation.
41. **Business** of Account writing, Auditing and legal advisory services.
42. **Business** of servicing, maintenance of repairing of all kinds of vehicles and machines.
43. **Business** of installation, maintenance and renovation of electrical and electronic goods.
44. Gems
45. Travels & Tours
46. Construction
47. Hotel
48. Business of real estate agent, investment in real estate industry

VI. To borrow money for the benefit of the Company's business from any person,firm,company, bank or financial organization in the manner that the Company shall think fit.

**PROVISO:** Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere,save in so for as it may be entitled so as to do in accordance with the Laws,Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **Daw Thet Thet Kyin**<br>Merchant<br>No.21/G, Thar Tha Na Yeik Thar Street,<br>Thar Tha Na Yeik Thar Quarter,<br>Bahan Township,YANGON | 12/PABATA(NAING)016892 | 190 | Thet |
| 2 | **Daw Yu Yu Zaw**<br>Merchant<br>Building (2), Room (305), Shwe War<br>Myaing Housing, Yangon-Insein Road,<br>9-Quarter,Hlaing Township,YANGON | 3/MAWATA(NAING)010365 | 10 | [signature] |
| | | | | |

NayPyiTaw Dated 11 the 06 day of 2013

It is hereby certified that the persons mentioned above

put their signatures in my presence.

DAW TIN TIN YEE
ADVOCATE (LEGAL CONSULTANT)
L.L.B, B.R.E, MA (USA)
LICENSE NO. 7164

# THE MYANMAR COMPANIES ACT

## PRIVATE COMPANY LIMITED BY SHARES

### Articles Of Association

### OF

# GLOBAL MART DEVELOPMENT COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

The Authorised Capital of the Company is Ks. **50000000000** /-(Kyats **Fifty Thousand Million** only ) divided into ( **50000** ) shares of Ks **1000000** /-(Kyats **One Lark** only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representive of a deceased member shall be recognized by the Directors.

